# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၃၂၂.../၂၀၀၀။ ၂၀၀၀ ပြည့်နှစ် ဩဂုတ် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး စိုင်း သန်း အောင်

(ခ) အဘအမည် ဦး ကန့်ရှိုင်း လင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက (နိုင်) ၀၂၂၂၁၉

(ဃ) နေရပ်လိပ်စာ ၆၀ - ၆၂၊ ဗိုလ်ချုပ်လမ်း၊ ဆိပ်ငယ်ရပ်ကွက်၊ မြိတ်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း သုခရာဇာကုမ္ပဏီလီမိတက် ( Thukha Yarzar Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ပင်လယ်ငါး မွေးမြူ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မှန်ပြည်နယ်၊ ဂန်ကုန်တိုင်း နှင့် ဧရာဝတီတိုင်း၌ ငါး ဖမ်းတွက် များဖြစ်သည့်မြန်မာ့ပင်လယ်ပြင်တွင် ငါးဖမ်းခြင်း၊

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၃.၀၀ သန်း (ကျပ်နှစ်ဆယ့်သုံး သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၅/၂၀၀၀ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ တော်သလင်းလဆန်း ၃ ရက်
(၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက် )

၁။ မြန်မာ ကုမ္ပဏီဖြစ်သော သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.) မှ မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက်များတွင် ပင်လယ်ငါးများဖမ်းဆီး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၅-၆-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၁-၇-၂၀၀၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၉/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၁၇-၈-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၁/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)အား ပင်လယ်ငါးများ ဖမ်းဆီး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၄၂၂/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံး ပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ်(Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ငါးဖမ်းလုပ်ငန်းနှင့် ပတ်သက်၍ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

ကျော်အောင်

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၅၈၀/၂၀၀၀ ( ၂၄၅၇.-၄ )
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ ပို့ဆောင်ရေး ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရေကြောင်းပို့ဆောင်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ မန်နေဂျင်း ဒါရိုက်တာ၊ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)။

## အစည်းအဝေးအစီအစဉ်(            )

အကြောင်းအရာ။ သုခရာဇာ ကုမ္ပဏီလီမိတက် မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | သုခရာဇာ ကုမ္ပဏီလီမိတက်<br>(Thukha Yarzar Co., Ltd.) |
| ၂။ | အဆိုပြုလုပ်ငန်း အမျိုးအစား | ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း |
| ၃။ | ဖွဲ့စည်းပုံ | မြန်မာကုမ္ပဏီ |
| ၄။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု<br>(နိုင်ငံခြားငွေ ပါဝင်မှု) | ကျပ် (၂၃.၀၀) သန်း<br>{အမေရိကန်ဒေါ်လာ (၁.၂၀) သန်း}<br>(ငါးဖမ်းရေယာဉ်(၈)စီးကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ CNFC International Fisheries Corporation မှရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၈)ရာခိုင်နှုန်းဖြင့် (၆)နှစ်အတွင်း ပြန်လည် ပေးဆပ်ရမည် ဖြစ်ပါသည်။) |
| ၅။ | တည်နေရာ | မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက် |
| ၆။ | ငါးဖမ်းလုပ်ငန်း | |
| | - ငါးဖမ်းရေယာဉ်စီးရေ | (၈)စီး |
| | - တစ်နှစ်ငါးဖမ်းခေါက်ရေ | (၂၀)ခေါက် |
| | - ရေယာဉ်(၈)စီးအတွက်<br>တစ်နှစ်လျှင် ငါးဖမ်းခေါက်ရေ | (၁၆၀)ခေါက် |
| | - တစ်ခေါက်လျှင်ဖမ်းဆီးနိုင်မည့်<br>ငါးကုန်ချိန် | (၂၅)တန် |
| ၇။ | တစ်နှစ်လျှင်ဖမ်းဆီးနိုင်မည့်<br>ငါးကုန်ချိန် စုစုပေါင်း | (၄၀၀၀)တန် |
| | - ပြည်ပ(အဆင့်မီငါး) | (၃၀)ရာခိုင်နှုန်း |
| | - ပြည်တွင်း | (၇၀)ရာခိုင်နှုန်း |
| ၈။ | အရင်းကြေကာလ | (၄)နှစ်နှင့် (၆)လ |
| ၉။ | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | (၂၇.၉၀) ရာခိုင်နှုန်း |
| ၁၀။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်<br>အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၀.၇၄ သန်း<br>US$ ၀.၁၈ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၅၅.၆၆ သန်း |

| | | |
|---|---|---|
| ၁၁။ | ဝန်ထမ်းအင်အား<br>– ပြည်တွင်း<br>– ပြည်ပ | ၁၅၇ ဦး<br>၁၃၃ ဦး<br>၂၄ ဦး<br>(၆ လအတွင်းအပြီးပြန်လွှတ်ရန်) |
| ၁၂။ | သက်ဆိုင်ရာဌာန၏ သဘောထား မှတ်ချက် | မွေးမြူရေးနှင့်ရေလုပ်ငန်းဦးစီးဌာန–အဆိုပြု လုပ်ငန်းကို ခွင့်ပြုသင့်ကြောင်း၊ငါးဖမ်းရေယာဉ်(၈)စီးအတွက်ကျသင့်တန်ဖိုးပေါ်တွင် ပေးချေရမည့်အတိုးနှုန်းမှာ သင့်တင့်မျှတသော အတိုးနှုန်းဖြစ်စေရန် ညှိနှိုင်းဆောင်ရွက်သင့်ကြောင်း၊ ကုမ္ပဏီအနေဖြင့်အမှန်အကယ်ငွေ ပေးချေမည့် အစီအစဉ်ကို တိတိကျကျ သတ်မှတ်ထားသင့်ကြောင်း၊ ငါးဖမ်း ရေယာဉ်များ နှင့်စပ်လျဉ်း၍ ယခင်က စည်းကမ်း ဖောက်ဖျက်မှုများ အရေးယူရာတွင် မြန်မာကုမ္ပဏီ မှ အမည်ခံ ဝယ်ယူခဲ့ကြောင်း စီစစ်တွေ့ရှိရပါ၍ ကုမ္ပဏီ အနေဖြင့် အမှန်ဝယ်ယူခြင်းပြုရန် လိုပါကြောင်း၊<br>ပို့ဆောင်ရေး ဝန်ကြီးဌာန – တင်သွင်းမည့် ရေယာဉ်(၄)စီး နှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း၊ |
| ၁၃။ | ငွေကြေးခိုင်မာမှုအထောက်အထား | သုခရာဇာ ကုမ္ပဏီလီမိတက် ၏ အာရှဝနဘဏ် လီမိတက်ရှိ (၇–၄–၂၀၀၀) နေ့ ရှိငွေလက်ကျန် ကျပ် (၁၆.၉၂)သန်း ကိုတင်ပြထား ပါသည်။ |
| ၁၄။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေး | (၁၅–၆–၂၀၀၀)နေ့တွင် ကျင်းပ သည့် (၁၉/၂၀၀၀) အစည်းအဝေး |
| ၁၅။ | ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေး | (၂၁–၇–၂၀၀၀)နေ့တွင် ကျင်းပ သည့် (၉/၂၀၀၀) အစည်းအဝေး |
| ၁၆။ | အခြား | အဆိုပါ အစည်းအဝေးဆုံးဖြတ်ချက်အရ နိုင်ငံခြားသား (၂၄)ဦး အား (၆)လအတွင်း အပြီးပြန်လွှတ်ရန်နှင့် ဥပဒေစည်းမျဉ်း စည်းကမ်းများ လိုက်နာခြင်းမရှိက အရေးယူခြင်းခံရမည်ဖြစ်ကြောင်းကို သိရှိကြောင်း ခံဝန်ကတိ တောင်းခံထားပါသည်။ |
| ၁၇။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရခွင့်ပြုရန် |

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/ မ-၁၁၄၉/ ၂၀၀၀ (၂၀၀၇-ခ)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၁၁ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ သုခရာဇာ ကုမ္ပဏီလီမိတက် မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော သုခရာဇာ ကုမ္ပဏီလီမိတက် (Thukha Yarzar Co., Ltd.) မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၅-၆-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၁-၇-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၉/၂၀၀၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်း အပါအဝင်စုစုပေါင်း ကျပ် (၂၃.၀၀)သန်း ဖြစ်ပါသည်။ ငါးဖမ်းရေယာဉ်(၈)စီးကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ CNFC International Fisheries Corporation မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၈)ရာခိုင်နှုန်းဖြင့် (၆)နှစ်အတွင်း ပြန်လည် ပေးဆပ်ရမည် ဖြစ်ပါသည်။ ရေယာဉ်ဝယ်ယူရေးစာချုပ်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုချက်ရရှိပြီး တစ်လအတွင်း လက်မှတ်ရေးထိုးချုပ်ဆို ဝယ်ယူမည်ဖြစ်ပြီး ပထမငါးဖမ်းရေယာဉ်(၄)စီးကို စာချုပ်ပြီး (၁၅) ရက်အတွင်း ပေးပို့ရန်ဖြစ်ပြီး ဒုတိယ (၄) စီးကို ပထမငါးဖမ်းရေယာဉ် (၄)စီး လက်ခံရရှိပြီးနောက် (၃)လအတွင်း ပေးပို့မည်ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းသည် မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက်များတွင် ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ပုံမှန်နှစ်တွင် ငါးဖမ်းရေယာဉ်(၈)စီးဖြင့် တစ်နှစ်လျှင် (၁၆၀)ခေါက်ဖြင့် ဖမ်းဆီးမည့် ငါးတန်ချိန် (၄၀၀၀) တန်ရရှိမည်ဖြစ်ပြီး ဖမ်းဆီးရရှိမည့်ငါးများအနက် ပြည်ပပို့အဆင့်မီငါး (၃၀)ရာခိုင်နှုန်းကို တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၁၀၀၀)နှုန်း၊ ကျန်(၇၀)ရာခိုင်နှုန်းကို ပြည်တွင်းတွင် တစ်တန်လျှင် ကျပ် (၁၇၇၄၈၀)နှုန်းဖြင့်လည်းကောင်း ရောင်းချမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၇.၉၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၀.၇၄ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၁၈ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၅၅.၆၆ သန်း |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၃၃)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၂၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပို့ဆောင်ရေး ဝန်ကြီးဌာနမှ တင်သွင်းမည့် ရေယာဉ်(၄)စီးနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်းနှင့် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းကိုခွင့်ပြုသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်(၈)စီးအတွက် ကျသင့်တန်ဖိုးပေါ်တွင်ပေးချေရမည့် အတိုးနှုန်းမှာ သင့်တင့်မျှတသော အတိုးနှုန်းဖြစ်စေရန် ညှိနှိုင်းဆောင်ရွက်သင့်ကြောင်း၊ ကုမ္ပဏီ အနေဖြင့် အမှန်တကယ်ငွေပေးချေမည့် အစီအစဉ်ကို တိတိကျကျ သတ်မှတ်ထားသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်များ နှင့်စပ်လျဉ်း၍ ယခင်ကစည်းကမ်းဖောက်ဖျက်မှုများ အရေးယူရာတွင် မြန်မာကုမ္ပဏီများမှ အမည်ခံ ဝယ်ယူခဲ့ကြောင်း စီစစ်တွေ့ရှိရပါ၍ ကုမ္ပဏီ အနေဖြင့် အမှန်ဝယ်ယူခြင်းပြုရန် လိုပါကြောင်း သဘောထားများ ပြန်ကြားလာ ပါသည်။

၉။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် တင်သွင်းမည်ဟုဖော်ပြခဲ့သော ရေယာဉ် (၄)စီးမှာ မြိတ်တွင် ရောက်ရှိနေပြီဖြစ်ပြီး ယင်းကိစ္စနှင့် ပတ်သက်၍ ကုမ္ပဏီမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့် မရမီ ယခုကဲ့သို့ သင်္ဘောများ ဝင်ရောက်လာခြင်းမှာ သင်္ဘောများသည် တန်ချိန်အားဖြင့် ငှားသောယာဉ်များဖြစ်ခြင်း၊ ဧပြီလနောက်ပိုင်းတွင် ပင်လယ်ပြင်သည် လှိုင်းလေလွန်စွာထန်သဖြင့် ငါးဖမ်းရေယာဉ်များ အဖို့ ပင်လယ်ပြင်ကို ဖြတ်သန်းလာရန် ခက်ခဲမှုရှိနိုင်ခြင်း၊ မတ်လအတွင်း ဝင်ရောက်လာနိုင်ခြင်း မရှိခဲ့ပါက (၂၀၀၁)ခုနှစ် ၊ နှစ်ဦးပိုင်းအထိ စောင့်ဆိုင်းရမည်ဖြစ်ခြင်း တို့ကြောင့် ၄င်းသင်္ဘောများအား မြန်မာနိုင်ငံသို့ ဝင်ရောက်လာခြင်း မပြုရန် တားမြစ်ခဲ့ပါသော်လည်း ဆက်သွယ်ရေး ပြတ်တောက်ကြောင့် တားဆီး၍မရခဲ့ခြင်းကြောင့် မြိတ်တွင် ယနေ့တိုင် ရပ်နားလျက်ရှိကြောင်း၊ ငါးဖမ်းကွက်များကို မှန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း အတွင်း ဖမ်းယူမည် ဖြစ်ကြောင်း၊ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများကို ချိုးဖောက်လို၍ ဝင်ရောက်လာခြင်း မဟုတ်ပါကြောင်း၊

မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန နှင့် တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီတို့၏ ခွင့်ပြုချက်ဖြင့် မြိတ်မြို့တွင် ရပ်နားထား ခြင်းဖြစ်ကြောင်း တင်ပြစာကို တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ ချေးငွေရယူမှု၊ ငါးဖမ်းလုပ်ငန်းနှင့် ပတ်သက်၍ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေစည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ငါးဖမ်းသင်္ဘောပေါ်တွင် ပါရှိသော နိုင်ငံခြားသား (၂၄)ဦးအား (၆)လအတွင်း အပြီးပြန်လွှတ်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) သုခရာဇာ ကုမ္ပဏီလီမိတက်မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၂၅၂၇၅၆။

စာအမှတ်၊ ၇က - ၁/၀၂၀/၂၀၀၀ (၂၀၈၇ - ဃ)၊
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ် ဩဂုတ်လ ၁၀ ရက်။

အကြောင်းအရာ။ ။ သုခရာဇာ ကုမ္ပဏီလီမိတက်မှ ပင်လယ်ငါးများဖမ်းဆီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ ။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၈- ၂၀၀၀) ရက်စွဲပါစာအမှတ်၊ ၇က-၁/မ-၁၁၄၉/၂၀၀၀ (၂၈၀၇- ခ) ၏မိတ္တူစောင်ရေ (၆၅) စောင်ကိုပူးတွဲပေးပို့အပ်ပါသည်။

(ဦး သောင်း)
ဥက္ကဋ္ဌ

အတွင်းရေးမှူး၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ-၁၁၄၉/ ၂၀၀၀ (          )။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၁၀ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ သုခရာဇာ ကုမ္ပဏီလီမိတက် မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော သုခရာဇာ ကုမ္ပဏီလီမိတက် (Thukha Yarzar Co., Ltd.) မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၅-၆-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၁-၇-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၉/၂၀၀၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်း အပါအဝင်စုစုပေါင်း ကျပ် (၂၃.၀၀)သန်း ဖြစ်ပါသည်။ ငါးဖမ်းရေယာဉ်(၈)စီးကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ CNFC International Fisheries Corporation မှရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၈)ရာခိုင်နှုန်းဖြင့် (၆)နှစ်အတွင်း ပြန်လည် ပေးဆပ်ရမည် ဖြစ်ပါသည်။ ရေယာဉ်ဝယ်ယူရေးစာချုပ်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုချက်ရရှိပြီး တစ်လအတွင်း လက်မှတ်ရေးထိုးချုပ်ဆို ဝယ်ယူမည်ဖြစ်ပြီး ပထမငါးဖမ်းရေယာဉ်(၄)စီးကို စာချုပ်ပြီး (၁၅) ရက်အတွင်း ပေးပို့ရန်ဖြစ်ပြီး ဒုတိယ (၄) စီးကို ပထမငါးဖမ်းရေယာဉ် (၄)စီး လက်ခံရရှိပြီးနောက် (၃)လအတွင်း ပေးပို့မည်ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းသည် မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက်များတွင် ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ပုံမှန်နှစ်တွင် ငါးဖမ်းရေယာဉ်(၈)စီးဖြင့် တစ်နှစ်လျှင် (၁၆၀)ခေါက်ဖြင့် ဖမ်းဆီးမည့် ငါးတန်ချိန် (၄၀၀၀) တန်ရရှိမည်ဖြစ်ပြီး ဖမ်းဆီးရရှိမည့်ငါးများအနက် ပြည်ပပို့အဆင့်မီငါး (၃၀)ရာခိုင်နှုန်းကို တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၁၀၀၀)နှုန်း၊ ကျန်(၇၀)ရာခိုင်နှုန်းကို ပြည်တွင်းတွင် တစ်တန်လျှင် ကျပ် (၁၇၇၄၈၀)နှုန်းဖြင့်လည်းကောင်း ရောင်းချမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၇.၉၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၀.၇၄ သန်း |
| | အမေရိကန်ဒေါ်လာ | ၀.၁၈ သန်း |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၅၅.၆၆ သန်း |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၃၃)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၂၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပို့ဆောင်ရေး ဝန်ကြီးဌာနမှ တင်သွင်းမည့် ရေယာဉ်(၄)စီးနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်းနှင့် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းကိုခွင့်ပြုသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်(၈)စီးအတွက် ကျသင့်တန်ဖိုးပေါ်တွင်ပေးချေရမည့် အတိုးနှုန်းမှာ သင့်တင့်မျှတသော အတိုးနှုန်းဖြစ်စေရန် ညှိနှိုင်းဆောင်ရွက်သင့်ကြောင်း၊ ကုမ္ပဏီ အနေဖြင့် အမှန်အကယ်ငွေပေးချေမည့် အစီအစဉ်ကို တိတိကျကျ သတ်မှတ်ထားသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်များနှင့်စပ်လျဉ်း၍ ယခင်ကစည်းကမ်းဖောက်ဖျက်မှုများ အရေးယူရာတွင် မြန်မာကုမ္ပဏီများမှ အမည်ခံဝယ်ယူခဲ့ကြောင်း စီစစ်တွေ့ရှိရပါ၍ ကုမ္ပဏီ အနေဖြင့် အမှန်ဝယ်ယူခြင်းပြုရန် လိုပါကြောင်း သဘောထားများ ပြန်ကြားလာ ပါသည်။

၉။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် တင်သွင်းမည်ဟုဖော်ပြခဲ့သော ရေယာဉ် (၄)စီးမှာ မြိတ်တွင် ရောက်ရှိနေပြီဖြစ်ပြီး ယင်းကိစ္စနှင့် ပတ်သက်၍ ကုမ္ပဏီမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့် မရရှိမီ ယခုကဲ့သို့ သင်္ဘောများ ဝင်ရောက်လာခြင်းမှာ သင်္ဘောများသည် တန်ချိန်အားဖြင့် နည်းသောယာဉ်များဖြစ်ခြင်း၊ ဧပြီလနောက်ပိုင်းတွင် ပင်လယ်ပြင်သည် လှိုင်းလေလွန်စွာထန်သဖြင့် ငါးဖမ်းရေယာဉ်များ အဖို့ ပင်လယ်ပြင်ကို ဖြတ်သန်းလာရန် ခက်ခဲမှုရှိနိုင်ခြင်း၊ မတ်လအတွင်း ဝင်ရောက်လာနိုင်ခြင်း မရှိခဲ့ပါက (၂၀၀၁)ခုနှစ် ၊ နှစ်ဦးပိုင်းအထိ စောင့်ဆိုင်းရမည်ဖြစ်ခြင်း တို့ကြောင့် ၎င်းသင်္ဘောများအား မြန်မာနိုင်ငံသို့ ဝင်ရောက်လာခြင်း မပြုရန် တားမြစ်ခဲ့ပါသော်လည်း ဆက်သွယ်ရေး ပြတ်တောက်မှုကြောင့် တားဆီး၍မရခဲ့ခြင်းကြောင့် မြိတ်တွင် ယနေ့တိုင် ရပ်နားလျက်ရှိကြောင်း၊ ငါးဖမ်းကွက်များကို မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း အတွင်း ဖမ်းယူမည် ဖြစ်ကြောင်း၊ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများကို ချိုးဖောက်လို၍ ဝင်ရောက်လာခြင်း မဟုတ်ပါကြောင်း၊

မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန နှင့် တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီတို့၏ ခွင့်ပြုချက်ဖြင့် မြိတ်မြို့တွင် ရပ်နားထား ခြင်းဖြစ်ကြောင်း တင်ပြစာကို တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ ချေးငွေရယူမှု၊ ငါးဖမ်းလုပ်ငန်းနှင့် ပတ်သက်၍ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေစည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ငါးဖမ်းသင်္ဘောပေါ်တွင် ပါရှိသော နိုင်ငံခြားသား (၂၄)ဦးအား (၆)လအတွင်း အပြီးပြန်လွှတ်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) သုခရာဇာ ကုမ္ပဏီလီမိတက်မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

(ဦးသောင်း)
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

လျှို့ဝှက်

## ပြည်ထောင်စု မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၁၄၉/၂၀၀၀ (၁၂၄၆-၈)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဇွန်လ ၂ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ သုခရာဇာ ကုမ္ပဏီလီမိတက် မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော သုခရာဇာ ကုမ္ပဏီလီမိတက် (Thukha Yarzar Co., Ltd.) မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၅-၆-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်း အပါအဝင်စုစုပေါင်း ကျပ် (၂၃.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၀.၀၀)သန်း၊ စက်ပစ္စည်းကိရိယာ (ငါးဖမ်းရေယာဉ်များ)တန်ဖိုး ကျပ် (၇.၂၀)သန်း {အမေရိကန်ဒေါ်လာ (၁.၂၀)သန်း}၊ ရုံးသုံးစက်ကိရိယာနှင့် ပရိဘောဂများတန်ဖိုး ကျပ် (၅.၈၀)သန်း ကို ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ ငါးဖမ်းရေယာဉ်(၈)စီးကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ CNFC International Fisheries Corporation မှရှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၈)ရာခိုင်နှုန်းဖြင့် (၆)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ ရေယာဉ်ဝယ်ယူရေးစာချုပ်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုချက်ရရှိပြီး တစ်လအတွင်း လက်မှတ်ရေးထိုးချုပ်ဆို ဝယ်ယူမည်ဖြစ်ပြီး ပထမငါးဖမ်းရေယာဉ်(၄)စီးကို စာချုပ်ပြီး (၁၅) ရက်အတွင်း ပေးပို့ရန်ဖြစ်ပြီး ဒုတိယ (၄) စီးကို ပထမငါးဖမ်းရေယာဉ် (၄)စီး လက်ခံရရှိပြီးနောက် (၃)လအတွင်း ပေးပို့မည်ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းသည် မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက်များတွင် ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ပုံမှန်နှစ်တွင် ငါးဖမ်းရေယာဉ်(၈)စီးဖြင့် တစ်နှစ်လျှင် (၁၆၀)ခေါက်ဖြင့် ဖမ်းဆီးမည့် ငါးတန်ချိန် (၄၀၀၀) တန်ရရှိမည်ဖြစ်ပြီး ဖမ်းဆီးရရှိမည့်ငါးများအနက် ပြည်ပပို့အဆင့်မီငါး (၃၀)ရာခိုင်နှုန်းကို

တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၁၀၀၀)နှုန်း၊ ကျပ်(၇၀)ရာခိုင်နှုန်းကို ပြည်တွင်းတွင် တစ်တန်လျှင် ကျပ် (၁၇၇၄၈၀)နှုန်းဖြင့်လည်းကောင်း ရောင်းချမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၅၅၆.၅၈ | ၈.၀၆ | ၅၆၄.၆၄ |
| (ခ) | အသုံးစရိတ် | ၅၅၄.၈၆ | ၁.၈၃ | ၅၅၆.၆၉ |
| (ဂ) | အသားတင်အမြတ် | ၁.၇၂ | ၆.၂၃ | ၇.၉၅ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၇.၉၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — ကျပ် ၀.၇၄ သန်း
အမေရိကန်ဒေါ်လာ ၀.၁၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၅၅.၆၆ သန်း

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၃၃)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၂၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပို့ဆောင်ရေး ဝန်ကြီးဌာနမှ တင်သွင်းမည့် ရေယာဉ်(၄)စီးနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်းနှင့် မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းကိုခွင့်ပြုသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်(၈)စီးအတွက် ကျသင့်တန်ဖိုးပေါ်တွင်ပေးချေရမည့် အတိုးနှုန်းမှာ သင့်တင့်မျှတသော အတိုးနှုန်းဖြစ်စေရန် ညှိနှိုင်းဆောင်ရွက်သင့်ကြောင်း၊ ကုမ္ပဏီ အနေဖြင့် အမှန်အကယ်ငွေပေးချေမည့် အစီအစဉ်ကို တိတိကျကျ သတ်မှတ်ထားသင့်ကြောင်း၊ ငါးဖမ်းရေယာဉ်များနှင့်စပ်လျဉ်း၍ ယခင်ကစည်းကမ်းဖောက်ဖျက်မှုများ အရေးယူရာတွင် မြန်မာကုမ္ပဏီများမှ အမည်ခံဝယ်ယူခဲ့ကြောင်း စီစစ်တွေ့ရှိရပါ၍ ကုမ္ပဏီ အနေဖြင့် အမှန်ဝယ်ယူခြင်းပြုရန် လိုပါကြောင်း သဘောထားများ ပြန်ကြားလာ ပါသည်။

၁၀။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် တင်သွင်းမည်ဟုဖော်ပြခဲ့သော ရေယာဉ် (၄)စီးမှာ မြိတ်တွင် ရောက်ရှိနေပြီဖြစ်ပြီး ယင်းကိစ္စနှင့် ပတ်သက်၍ ကုမ္ပဏီမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့်မရရှိမီ ယခုကဲ့သို့ သင်္ဘောများ ဝင်ရောက်လာခြင်းမှာ သင်္ဘောများသည် တန်ချိန်အားဖြင့် နည်းသောယာဉ်များဖြစ်ခြင်း၊ ဧပြီလနောက်ပိုင်းတွင် ပင်လယ်ပြင်သည် လှိုင်းလေလွန်စွာထန်သဖြင့် ငါးဖမ်းရေယာဉ်များ အဖို့ ပင်လယ်ပြင်ကို ဖြတ်သန်းလာရန် ခက်ခဲမှုရှိနိုင်ခြင်း၊ မတ်လအတွင်း

ဝင်ရောက်လာနိုင်ခြင်း မရှိခဲ့ပါက (၂၀၀၁)ခုနှစ် နှစ်ဦးပိုင်းအထိ စောင့်ဆိုင်းရမည်ဖြစ်ခြင်း တို့ကြောင့် ၄င်းသင်္ဘောများအား မြန်မာနိုင်ငံသို့ ဝင်ရောက်လာခြင်း မပြုရန် တားမြစ်ခဲ့ပါသော်လည်း ဆက်သွယ်ရေး ပြတ်တောက်မှုကြောင့် တားဆီး၍မရခဲ့ခြင်းကြောင့် မြိတ်တွင် ယနေ့တိုင် ရပ်နားလျက်ရှိကြောင်း၊ ငါးဖမ်းကွက်များကို မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း အတွင်း ဖမ်းယူမည် ဖြစ်ကြောင်း၊ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများကို ချိုးဖောက်လို၍ ဝင်ရောက်လာခြင်း မဟုတ်ပါကြောင်း၊ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန နှင့် တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီတို့၏ ခွင့်ပြုချက်ဖြင့် မြိတ်မြို့တွင် ရပ်နားထား ခြင်းဖြစ်ကြောင်း တင်ပြစာကို တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီးသောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ‹ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ငါးဖမ်းလုပ်ငန်းနှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) သုခရာဇာ ကုမ္ပဏီလီမိတက်မှ ပင်လယ်ငါးများ ဖမ်းဆီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၄။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ။</u>

လုပ်ငန်းစီမံကိန်းအဆိုပြုချက် အဓိကအချက်များ
(မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | သုခရာဇာ ကုမ္ပဏီလီမိတက်<br>(Thukha Yarzar Co., Ltd.)<br>(၁၀-၂-၂၀၀၀ နေ့ကုမ္ပဏီမှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်းအဆိုပြုသူ၏အမည် | ဦးစိုင်းသန်းအောင် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | ပင်လယ်ငါးများဖမ်းဆီးထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | မွန်ပြည်နယ်၊ ရန်ကုန်နှင့်ဧရာဝတီတိုင်းငါးဖမ်းကွက် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၃.၀၀ သန်း (US$ ၁.၂၀ သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၀.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ (ငါးဖမ်းရေယာဉ်များ) | ကျပ် ၇.၂၀ သန်း (US$ ၁.၂၀ သန်း) |
| | - ရုံးသုံးစက်ကိရိယာနှင့် ပရိဘောဂများ | ကျပ် ၅.၈၀ သန်း |
| ၆။ | ငါးဖမ်းလုပ်ငန်း | |
| | - ငါးဖမ်းရေယာဉ်စီးရေ | (၈) စီး |
| | - တစ်နှစ်ငါးဖမ်းခေါက်ရေ | (၂၀) ခေါက် |
| | - ရေယာဉ် (၈) စီးအတွက် တစ်နှစ်လျှင်ငါးဖမ်းခေါက်ရေ | (၁၆၀) ခေါက် |
| | - တစ်ခေါက်လျှင်ဖမ်းဆီးနိုင်မည့် ငါးကုန်ချိန် | (၂၅) တန် |
| ၇။ | တစ်နှစ်လျှင်ဖမ်းဆီးနိုင်မည့် ငါးကုန်ချိန်စုစုပေါင်း | (၄၀၀၀) တန် |
| | - ပြည်ပ (အဆင့်မီငါး) | (၃၀) ရာခိုင်နှုန်း |
| | - ပြည်တွင်း | (၇၀) ရာခိုင်နှုန်း |
| ၈။ | ရောင်းဈေးနှုန်း | |
| | - ပြည်ပ | US$ ၁၀၀၀/တန် |
| | - ပြည်တွင်း | ကျပ် ၁၇၇၄၀၀/တန် |

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၇၂၂..../၂၀၀၀။ ၂၀၀၀ ပြည့်နှစ် ဩဂုတ် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦး စိုင်း သန်း အောင် ........

(ခ) အဘအမည် ........ ဦး ကန္နိုင်း လင် ........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်)၁၂၂၁၁၉ ........

(ဃ) နေရပ်လိပ်စာ ........ ၁၀-၆၂၊ ဗိုလ်ချုပ်လမ်း၊ ဆိပ်ငယ်ရပ်ကွက်၊ ........

မြိတ်မြို့ ........

(င) ဖွဲ့စည်းသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ သုခရာဇာကုမ္ပဏီလီမိတက် ........

( Thukha Yarzar Co., Ltd. ) ........

(စ) ရင်းနှီးမြှုပ်နှံမပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ ပင်လယ်ငါး မွေးမြူ ဖမ်းဆီးထုတ်လုပ် ........

ခြင်း လုပ်ငန်း ........

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ........ မွန်ပြည်နယ်၊ ရန်ကုန်တိုင်း နှင့် ........

တနင်္သာရီတိုင်းငါး ဖမ်းကွက်များဖြစ်သည့်မြန်မာ့ပင်လယ်ပြင်တွင်ငါးဖမ်းခြင်း၊

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၃.၀၀ သန်း (ကျပ်နှစ်ဆယ့်သုံး သန်း တိတိ) ........

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၅/၂၀၀၀ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ တော်သလင်းလဆန်း ၃ ရက်
(၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက် )

၁။ မြန်မာ ကုမ္ပဏီဖြစ်သော သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.) မှ မွန်ပြည်နယ်၊ ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်း ငါးဖမ်းကွက်များတွင် ပင်လယ်ငါးများဖမ်းဆီး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၅-၆-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၁-၇-၂၀၀၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၉/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၁၇-၈-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၁/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)အား ပင်လယ်ငါးများ ဖမ်းဆီး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၄၂၂/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံး ပြီး၍အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့်စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ်(Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ငါးဖမ်းလုပ်ငန်းနှင့် ပတ်သက်၍ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၃။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဦးသောင်း)
ဥက္ကဌ

စာအမှတ်၊ ရက-၁/မ-၅၈၀/၂၀၀၀ ( ၂၄၅ ၇-၄ )
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဩဂုတ်လ ၃၁ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ ပို့ဆောင်ရေး ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရေကြောင်းပို့ဆောင်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ မန်နေဂျင်း ဒါရိုက်တာ၊ သုခရာဇာ ကုမ္ပဏီ လီမိတက် (Thukha Yarzar Co., Ltd.)။

